




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
# အတည်ပြုမိန့်

**အတည်ပြုမိန့်အမှတ်** ရကတ-၀၅၅/၂၀၁၈ ၂၀၁၈ ခုနှစ် ဇွန်လ ၁၃ ရက်

ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၂၅ ပုဒ်မခွဲ(ဃ) အရဤအတည်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဒေါ်ဝင်းဝင်း(ခ)ဒေါ်ကြူကြူ

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ် ၂၇(ဘီ)၊ အင်းယားရိပ်သာ၊ ၁၀ ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** မြေကွက်အမှတ် ၂၀၊ မြေတိုင်းရပ်ကွက်အမှတ် ၆၄(စက်မှု)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၅၀၆.၀၀ သန်း (စုစုပေါင်းကျပ် ငါးရာ ခြောက်သန်း တိတိ) (US$ ၀.၃၆၉ သန်း အပါအဝင်)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၂ နှစ်

(၁၂) **အတည်ပြုမိန့် သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)



ဥက္ကဋ္ဌ
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**
မြေကွက်အမှတ် ၄၉၊ စိမ်းလဲ့မေ လမ်းသွယ်၊
ကမ္ဘာအေး ဘုရားလမ်း၊ ရန်ကင်းမြို့နယ်၊
☏ ၀၁-၆၅၈၂၆၃
🖷 ၀၁-၆၅၈၂၆၄



စာအမှတ်၊ရကတ/အ-၀၅၅ /၂၀၁၈ ( ၃၂၀ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇွန် လ **၁၃** ရက်

အကြောင်းအရာ။ **ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)၏ CMP စနစ်ဖြင့် အိတ်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း အတည်ပြုမိန့်အပေါ် ရန်ကုန်တိုင်း ဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)၏ ၂၀၁၈ ခုနှစ် မေလ ၂၁ ရက်စွဲပါစာ

၁။ ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)၏ မြေကွက်အမှတ် ၂၀ ၊ မြေတိုင်းရပ်ကွက်အမှတ် ၆၄(စက်မှု) ၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၅၁၉ ဧက ( ၆၁၄၇.၁၈ စတုရန်းမီတာ)တွင် CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းအား ၂၀၁၈ ခုနှစ် မေလ ၂၃ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သော ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ (၇/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီ သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)အား CMP စနစ်ဖြင့် အိတ်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ရကတ- ၀၅၅ /၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ဖော်ပြပါအချက်များကို လိုက်နာဆောင်ရွက်ရမည် -

(က) ဖြောင့်မတ်အောင်မြင် လီမိတက် (Straight Success Limited) အနေဖြင့် ဤအတည်ပြုမိန့်အရ CMP စနစ်ဖြင့် အိတ်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇

နှင့် ၇၈ တို့အရ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက်အကောင်အထည်ဖော်ရမည်။

(ဂ) ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၀)တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏တာဝန်ဝတ္တရားများ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)သည် အတည်ပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့် အညီ လိုက်နာဆောင်ရွက်ရမည်။

(င) ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်း သက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ် တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ တို့အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(စ) ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီး နောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)သည် အတည်ပြုလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရ ဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စု ဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ် ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များ နှင့်အညီဆောင်ရွက်ပြီး မိတ္တူ (၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(ဖြိုးမင်းသိန်း)
ဥက္ကဋ္ဌ

**အုပ်ချုပ်မှုဒါရိုက်တာ၊**
ဖြောင့်မတ်အောင်မြင်လီမိတက် (Straight Success Limited)
**ဖြန့်ဝေခြင်း**
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
ဥက္ကဋ္ဌ၊CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ရင်းနှီးမြှုပ်နှံမှု ကြီးကြပ်ရေးဌာန၊ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန